အကြောင်းအရာ။ ရာခိုင်နှုန်းပြည့်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် CJ Feed Myanmar Company Limited မှ ကြက်သားဖောက်ခြင်းနှင့် ကြက်သားပေါက်ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် တင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/<br>ကမကထပြုသူ | - CJ Feed Myanmar Company Limited<br>- Mr. Kwang Ho Jeong (Korean) |
| | အဖွဲ့အစည်းပုံသဏ္ဌာန် | - ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>CJ Global Holdings Limited မှ ၉၉.၉၉ % (Hong Kong)<br>Mr. Kwang Ho Jeong မှ ၀.၀၁% (Korean) |
| | လုပ်ငန်းအမျိုးအစား | - ကြက်သားဖောက်ခြင်းနှင့် ကြက်သားပေါက်ရောင်းချခြင်း လုပ်ငန်း |
| ၂။ | တည်နေရာ | - မြေကွက်အမှတ်- ၁၉၇၊ မြောင်းတကာ သံမဏိစက်မှုဇုန်၊ မှော်ဘီမြို့နယ်၊ ရန်ကုန်တိုင်း ဒေသကြီး |
| ၃။ | မြေပိုင်ရှင် | - ဦးသိန်းလွင် |
| ၄။ | မြေအကျယ်အဝန်း | - မြေဧရိယာ ၂.၀၆၁ (၈၃၄၀.၅၇ စတုရန်းမီတာ) |
| ၅။ | မြေငှားရမ်းခ | - တစ်နှစ်တစ်စတုရန်းမီတာလျှင် ကျပ် ၈၃၉.၂၇ နှုန်းဖြင့် ၈၃၄၀.၅၇ စတုရန်းမီတာအတွက် ကျပ် ၇,၀၀၀,၀၀၀ |
| ၆။ | လုပ်ငန်းသက်တမ်း | - ၅၀ နှစ် |
| ၇။ | တည်ဆောက်ရေးကာလ | - ၇ လ |
| ၈။ | စုစုပေါင်းမတည်ငွေရင်း<br>ထည့်ဝင်သည့်အမျိုးအစား | - အမေရိကန်ဒေါ်လာ ၁.၄ သန်း |
| ၉။ | ဝန်ထမ်းအင်အား | - ၁၇ ဦး |
| | ပြည်တွင်း | - ၁၆ ဦး (ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာ ကျပ် ၁၈၀,၀၀၀ နှင့် အမြင့်ဆုံးလစာ ကျပ် ၈၀၀,၀၀၀ ဖြစ်ပါသည်။) |
| | ပြည်ပ | - ၁ ဦး(ပြည်ပဝန်ထမ်းတစ်ဦး၏လစာမှာ ကျပ် ၁,၀၀၀,၀၀၀ ဖြစ်ပါသည်။) |
| ၇။ | ရောင်းချမည့်စနစ် | - ၁၀၀% ပြည်တွင်းရောင်း |
| ၁၀။ | နှစ်စဉ်ထုတ်လုပ်မှု(ပုံမှန်နှစ်) | |

| အမျိုးအစား | အရေအတွက် (bird) | ရောင်းချမည့် ဈေးနှုန်း (ကျပ်/bird) |
|---|---|---|
| Broiler DOC | ၃,၉၃၇,၁၉၈ | ၆၀၀ |

| | | |
|---|---|---|
| ၁၁။ | လျှပ်စစ်ဓါတ်အားလိုအပ်ချက် (နှစ်စဉ်) | - 90,000 kWh |
| ၁၂။ | အခြားတင်ပြချက် | - CJ Feed Myanmar Company Limited ၏ MOA, AOA တင်ပြ ထားပါသည်။<br>- ဒါရိုက်တာအဖွဲ့ဝင်များ၏ နိုင်ငံကူး လက်မှတ်မိတ္တူများ တင်ပြထားပါသည်။<br>- မြေပိုင်ရှင် ဦးသိန်းလွင်နှင့် CJ Feed Myanmar Company Limited တို့ ချုပ်ဆိုထားသော မြေငှားစာချုပ် ၊ စက်မှု လက်မှုလုပ်ငန်းအတွက် မြေအသုံးပြုခွင့် ရရှိထားသည့် အထောက်အထားနှင့် Layout Plan တို့ကို တင်ပြ ထားပါသည်။<br>- ငွေကြေးအထောက်အထားအဖြစ်CJ Global Holdings Limited အမည်ဖြင့် ဟောင်ကောင် ရှိ HSBC တွင် ၃၀-၁၂-၂၀၁၇ ရက်နေ့အထိ အမေရိကန် ဒေါ်လာ ၃၀၁,၂၄၅.၁၉ နှင့် တရုတ်ယွမ် ၄၁,၀၅၈,၁၁၉.၈၈ (အမေရိကန် ဒေါ်လာ ၆၃၈၅၃၉၉.၆၇) ရှိကြောင်း တင်ပြ ထား ပါ သည်။<br>- မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်၊ လုပ်ငန်းခွင်သာယာရေးနှင့်ဝန်ထမ်းသက်သာချောင်ချိရေးစီမံချက်၊အလုပ်သမားများလစာအပေါ် ဝင်ငွေခွန် ပေးဆောင်မည် ဖြစ်ကြောင်း ဝန်ခံ ကတိပြုစာ၊ CSR Project နှင့် Waste Water Treatment တို့ကို တင်ပြထားပါသည်။<br>- CJ Global Holdings Limited ၏ Company Profile တင်ပြထားပါသည်။<br>- ပြည်ပမှ စက်ပစ္စည်းတန်ဖိုး အမေရိကန်ဒေါ်လာ ၇၄၄,၄၀၀ အား တင်သွင်းမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ |
| | စိစစ်တင်ပြချက် | - ခွင့်ပြုမိန့်ရရှိထားသော ကုမ္ပဏီမှ ယခင် လုပ်ငန်းမြေနေရာမှ မြေကွက် အမှတ် ၁၉၇ ကို ပြောင်းလဲချင်း ကုမ္ပဏီမှ တင်ပြလာခြင်း အား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၃၀-၁၁-၂၀၁၇ ရက်နေ့တွင် ကျင်းပသည့် ၁၆/၂၀၁၇ ကြိမ်မြောက် အစည်း အဝေးသို့ တင်ပြခဲ့ပြီး ဖြစ်ပါ သည်။ |

| | | |
|---|---|---|
| | | - အဆိုပါ မြေကွက် ၁၉၇ တွင် ကြက်သားဖောက်ခြင်းနှင့် ကြက်သားပေါက် ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုလျှောက်ထားလွှာတင်ပြလာခြင်းဖြစ်ပါသည်။<br>- အဆိုပြုလုပ်ငန်းသည် ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှု ကဏ္ဍတွင်ပါဝင်ပြီး ISIC Code-၀၁၄၆တွင် အကျုံးဝင် ပါသည်။<br>- အဆိုပြု လုပ်ငန်းဆောင်ရွက်မည့် နေရာသည် ဇုန်(၂)တွင် ပါဝင်ပါသည်။<br>- ခွင့်ပြုမိန့် ရရှိပြီးပါက သင်းဖွဲ့စည်းမျဉ်း/ သင်းဖွဲ့ မှတ်တမ်း တွင် လုပ်ငန်းရည်ရွယ်ချက် ပြောင်းရမည်ဖြစ်ကြောင်း စိစစ် တွေ့ရှိရ ပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ မရက-၂/ခ-၀၁၃/၂၀၁၈(၀၄၄ )

ရက်စွဲ ၊၂၀၁၈ ခုနှစ် ဇန်နဝါရီလ ၁၉ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**

တင်ပြသည့် အမှာစာ

အကြောင်းအရာ။ **ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် CJ Feed Myanmar Company Limited မှ ကြက်သားဖောက်ခြင်းနှင့် ကြက်သားပေါက်ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုလျှောက်ထားလွှာ တင်ပြလာခြင်းကိစ္စ**

၁။ ဟောင်ကောင်နိုင်ငံ၊ CJ Global Holdings Ltd. မှ (၉၉.၉၉%) နှင့် ကိုရီးယားနိုင်ငံ၊ Mr. Kwang Ho Jeong မှ (၀.၀၁%) အစုရှယ်ယာများထည့်ဝင်၍ မြန်မာနိုင်ငံတွင် CJ Feed Myanmar Company Limited တည်ထောင်ပြီး ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ မှော်ဘီမြို့နယ်၊ မြောင်းတကာသံမဏိစက်မှုဇုန်၊ မြေကွက်အမှတ် ၁၉၇ ရှိ မြေဧရိယာ ၂.၀၆၁ ဧက (၈၃၄၀.၅၇ စတုရန်းမီတာ) ကို ငှားရမ်း၍ ကြက်သားဖောက်ခြင်းနှင့် ကြက်သားပေါက် ရောင်းချခြင်း လုပ်ငန်းအား ဆောင်ရွက် ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြု တင်ပြလာပါသည်။

၂။ မြေပိုင်ရှင် ဦးသိန်းလွင်နှင့် CJ Feed Myanmar Company Limited တို့ ချုပ်ဆိုထားသော မြေငှားစာချုပ် ၊ စက်မှု လက်မှုလုပ်ငန်းအတွက် မြေအသုံးပြုခွင့် ရရှိထား သည့် အထောက်အထားနှင့် Layout Plan တို့ကို တင်ပြ ထားပါသည်။

၃။ မြေငှားသက်တမ်းမှာ ကနဦး၅၀နှစ်ဖြစ်ပါသည်။ မြေဧရိယာ ၂.၀၆၁ (၈၃၄၀.၅၇ စတုရန်းမီတာ) ဖြစ်ပြီး တစ်နှစ်တစ်စတုရန်းမီတာလျှင် ကျပ် ၈၃၉.၂၇ နှုန်းဖြင့် ၈၃၄၀.၅၇ စတုရန်းမီတာအတွက် ကျပ် ၇,၀၀၀,၀၀၀ ဖြစ် ပါသည်။

၄။ လုပ်ငန်းစီမံကိန်းကာလမှာ ကနဦး ၅၀ နှစ် ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၇လ ကြာမြင့် မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်း မတည်ငွေရင်းမှာ အမေရိကန်ဒေါ်လာ ၁.၄ သန်းဖြစ်ပါသည်။

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းဝန်ထမ်း(၁၆) ဦးနှင့် ပြည်ပဝန်ထမ်း(၁) ဦး စုစုပေါင်း ဝန်ထမ်းဦးရေ ၁၇ ဦး ခန့်ထားမည် ဖြစ်ပါသည်။ ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ ၁၈၀,၀၀၀ ကျပ်နှင့် အမြင့်ဆုံးလစာမှာ ၈၀၀,၀၀၀ ကျပ် ဖြစ်ပါသည်။ ပြည်ပဝန်ထမ်း တစ်ဦး၏ လစာ မှာ ကျပ် ၁,၀၀၀,၀၀၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိလာသည့် ကုန်ပစ္စည်းများအား ပြည်တွင်းတွင် ၁၀၀% ရောင်းချမည် ဖြစ်ပါသည်။ အဆိုပြုလုပ်ငန်း၏ ပြည်တွင်း ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်းမှာ အောက်ပါ အတိုင်း ဖြစ်ပါသည်-

| **စဉ်** | **ပစ္စည်း အမျိုးအစား** | **အရေအတွက်** (bird) | **ရောင်းချမည့် ဈေးနှုန်း** (ကျပ်/bird) |
|---|---|---|---|
| (က) | Broiler DOC | ၃,၉၃၇,၁၉၈ | ၆၀၀ |

၈။ အဆိုပြုလုပ်ငန်းနှင့်ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြားထား ပါသည်-

(က) **စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန** မှ ကြက်သားဖောက်ခြင်းနှင့် ကြက်သားပေါက်ရောင်းချခြင်းလုပ်ငန်းအား မွေးမြူရေးနှင့် ကုသရေးဦးစီးဌာန၏ မွေးမြူရေးလုပ်ငန်း ကျင့်စဉ်(GAHP)နှင့်အညီ ဆောင်ရွက်မည် ဆိုပါက ကန့်ကွက် ရန် မရှိကြောင်း သဘောထား ပြန်ကြားလာပါသည်။ **နောက်ဆက်တွဲ - က**

(ခ) **ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဦးစီးဌာနမှ** ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာနမှ ပတ်ဝန်းကျင် ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment- EIA) ဆောင်ရွက်ရန်နှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP)ကိုဆောင် ရွက်ရန်လိုအပ်ပါကြောင်း သဘောထားပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ-ခ**

- ၉။ ငွေကြေးအထောက်အထားအဖြစ်CJ Global Holdings Limited အမည်ဖြင့် ဟောင်ကောင် ရှိ HSBC တွင် ၃၀-၁၂-၂၀၁၇ ရက်နေ့အထိ အမေရိကန် ဒေါ်လာ ၃၀၁,၂၄၅.၁၉ နှင့် တရုတ်ယွမ် ၄၁,၀၅၈,၁၁၉.၈၈ (အမေရိကန် ဒေါ်လာ ၆၃၈၅၃၉၉.၆၇) ရှိကြောင်း တင်ပြ ထားပါ သည်။

၁၀။ မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်၊ လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းသက်သာ ချောင်ချိရေး စီမံချက်၊အလုပ်သမား များလစာအပေါ် ဝင်ငွေခွန် ပေးဆောင်မည် ဖြစ်ကြောင်း ဝန်ခံ ကတိပြုစာ၊CSR Project နှင့် Waste Water Treatment တို့ကို တင်ပြထားပါသည်။

၁၁။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၇ ခုနှစ် ဒီဇင်ဘာလ ၁၁ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် ၃၅/၂၀၁၇ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပြီးဖြစ်ပါသည်။

**စိစစ်တင်ပြချက်**

၁၂။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) CJ Feed Myanmar Company Limited သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ခွင့်ပြုမိန့်အမှတ်၊ ၁၀၄/၂၀၁၇ ဖြင့် ရန်ကုန်တိုင်းဒေသကြီးတွင် ကြက်စာ၊ ဘဲစာ၊ ဝက်စာ၊ ကျွဲနွားအစာ၊ ပုဇွန်စာ၊ ငါးစာနှင့် အစာမျိုးစုံ ထုတ်လုပ် ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက် လျှက်ရှိ ပါသည်။

(ခ) အဆိုပြုလုပ်ငန်းသည် ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှု ကဏ္ဍတွင်ပါဝင်ပြီး ISIC Code-၀၁၄၆တွင် အကျုံးဝင် ပါသည်။

(ဂ) အဆိုပြု လုပ်ငန်းဆောင်ရွက်မည့် နေရာသည် ဇုန်(၂)တွင် ပါဝင်ပါသည်။

(ဃ) ကော်မရှင်ခွင့်ပြုမိန့်ရရှိပြီးပါက သက်ဆိုင်ရာလုပ်ငန်းလိုင်စင်များ လျှောက်ထားရန် လိုအပ်ပါသည်။

(င) ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့်ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၃။ CJ Feed Myanmar Company Limited မှ ကြက်သားဖောက်ခြင်းနှင့် ကြက်သားပေါက် ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာ ခြင်းကိစ္စအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုမိန့်ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

## CJ Feed Myanmar Company Limited ၏
## ဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/ အစုရှင်များ၏ အမည် | ဒါရိုက်တာ/ အစုရှင်များ၏ ဆက်သွယ်ရန် လိပ်စာ |
|---|---|---|---|
| ၁။ | CJ Feed Myanmar Company Limited | (1)CJ Global Holdings Limited Represented by, | Suite 3003, 30/F, Central Plaza, 18 Harbour Road, Wanchai, Hong Kong |
| | | Mr. Kwang Ho Jeong Korean PP.N0:7502464 Managing Director | 401 Ho, Baikje Gobun Ro 9 Gil 22 (Jamsil Dong), Song Pa Gu, Seoul, Korea |
| | | (2) Mr. Byoung Soo Lee Korean PP.N0:M11289596 Director | Recentz APT, 215-603, 135 Olympic-ro, SongPa -Gu, Seoul, Korea |
| | | (3) Mr. Kwang Jae Ha Korean PP.N0:M39763126 Director | 170Ho, 102 Dong, 30, Jongam-ro25-gil, Seongbuk-gu, Seoul, Korea |

၁။ ဆက်သွယ်ရမည့် တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် - ၀၉-၉၇၇၆၀၆၉၄၈

၂။ ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ -

၃။ ဆက်သွယ်ရမည့် ပုဂ္ဂိုလ်အမည်၊ ရာထူး - ဒေါ်ခင်မြလွင်

၄။ ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ - ကြက်သားဖောက်ခြင်းနှင့် ကြက်သားပေါက်ရောင်းချခြင်း လုပ်ငန်း

၅။ ကုမ္ပဏီမှတ်ပုံတင်အမှတ်/ နေ့စွဲ - -

၆။ ကုမ္ပဏီမှတ်ပုံတင်ကုန်ဆုံးသည့်နေ့စွဲ - -

၇။ ဘဏ်အမည်နှင့် ဘဏ်စာရင်းအမှတ် - -

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
စိုက်ပျိုးရေး၊မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

စာအမှတ်၊ ၃/ ၂၀၁၀/ မွေးရေကျေး( ၉၅၆ /၂၀၁၇)
ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ ဒီဇင်ဘာလ ၂၁ ရက်

အကြောင်းအရာ ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၇-၁၂-၂၀၁၇ ရက်စွဲပါစာအမှတ်၊ မရက-၂/ အ-၀၂၂/ ၂၀၁၇ (၈၉၅)

၁။ ဟောင်ကောင်နိုင်ငံ CJ Global Holdings Ltd. မှ (၉၉.၉၉%) နှင့် ကိုရီးယားနိုင်ငံမှ Mr. Kwang Ho Jeong မှ (၀.၀၁%) အစုရှယ်ယာများထည့်ဝင်၍ မြန်မာနိုင်ငံတွင် CJ Feed Myanmar Company Limited တည်ထောင်ပြီး ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ မှော်ဘီမြို့နယ်၊ မြေကွက်အမှတ် (၁၉၇)ရှိ မြေဧရိယာ (၂.၀၆၁)ဧက (၈၃၄၀.၅၇ စတုရန်းမီတာ) ကို ငှားရမ်း၍ ကြက်သားဖောက်ခြင်းနှင့် ကြက်သားပေါက်ရောင်းချခြင်း လုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြမှုနှင့်ပတ်သက်၍ သဘောထားပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ပေးပို့လာပါသည်။

၂။ အဆိုပါကိစ္စနှင့်ပတ်သက်၍ စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန အနေဖြင့် CJ Feed Myanmar Co., Ltd မှ ကြက်သားဖောက်ခြင်းနှင့် ကြက်သားပေါက် ရောင်းချခြင်းလုပ်ငန်းအား မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန၏ မွေးမြူရေးလုပ်ငန်းကျင့်စဉ် (GAHP) နှင့်အညီ ဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန် မရှိပါကြောင်း သဘောထားပြန်ကြား အပ်ပါသည်။

၂၁/၁၂

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
ဒေါက်တာခင်ဇော်၊အမြဲတမ်းအတွင်းဝန်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

မိတ္တူ-

(၁) ညွှန်ကြားရေးမှူးချုပ်၊ မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန

(၂) ရုံးလက်ခံ

(၃) မျှော

ST

MIC1 ၅/၁၂
15/12

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၀၀၁/ MIC (OSS)/ ၀၁ (၁၉၇/၁၇)
ရက်စွဲ၊ ၂၀၁၇ ခုနှစ် ဒီဇင်ဘာလ ၁၅ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **CJ Feed Myanmar Company Limited မှ ကြက်သားဖောက်ခြင်းနှင့်ကြက်သားပေါက်ရောင်းချခြင်းလုပ်ငန်း လုပ်ကိုင်ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၇-၁၂-၂၀၁၇ ရက်စွဲပါစာအမှတ်၊ မရက-၂/ အ-၀၂၂/ ၂၀၁၇ (၈၉၆)

၁။ ဟောင်ကောင်ရှိ CJ Global Holding Ltd. မှ (၉၉.၉၉%) နှင့် ကိုရီးယားနိုင်ငံမှ Mr. Kwang Ho Jeong မှ (၀.၀၁%) အစုရှယ်ယာများထည့်ဝင်၍ မြန်မာနိုင်ငံတွင် CJ Feed Myanmar Company Limited တည်ထောင်ပြီး ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ မှော်ဘီမြို့နယ်၊ မြောင်းတကာသံမဏိစက်မှုဇုန်၊ မြေကွက်အမှတ်- ၁၉၇ ရှိ မြေ ၂.၀၆၁ ဧက (၈၃၄၀.၅၇ စတုရန်းမီတာ) ကို ငှားရမ်း၍ ကြက်သားဖောက်ခြင်းနှင့်ကြက်သားပေါက်ရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ လုပ်ကိုင်ဆောင်ရွက်လိုကြောင်း တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ စိစစ်ပြီးသဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာအဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များကို လေ့လာတွေ့ရှိရပါသည် -

(က) ပေးပို့လာသောအဆိုပြုလွှာတွင်ရင်းနှီးမြှုပ်နှံမှုကာလမှာနှစ် (၅၀) ဖြစ်ပြီး၊ သက်တမ်းတိုး (၁၀)နှစ်(၂)ကြိမ်ဆောင်ရွက်မည်ဖြစ်ကာတည်ဆောက်ရေးကာလမှာ (၈)လဖြစ်ကြောင်း၊

(ခ) အဆိုပြုလုပ်ငန်းအတွက်မြေ (၈၃၄၀.၅၇စတုရန်းမီတာ) တွင် ကြက်သားဖောက်စက်ထားရှိမည့် အဆောက်အဦးအပါအဝင် ဆက်စပ်အဆောက်အဦများ တည်ဆောက်ကာ လုပ်ငန်းဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဂ) အဆိုပြုလုပ်ငန်းမှ (၁) နှစ်လျှင် ကြက်ကောင်ရေ (၇၅၀၀၀) ခန့် သားဖောက်ကာ ရောင်းချသွားမည်ဖြစ်ကြောင်း၊

(ဃ) ဝန်ထမ်းများသက်သာ ချောင်ချိရေးအစီအစဉ်များ၊ မီးဘေးကြိုတင်ကာကွယ်ရေး အစီအမံများကိုလည်းထားရှိ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(င) မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်၊ ဝန်ထမ်းသက်သာချောင်ချိရေး အစီအစဉ်များကို ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(စ) လုပ်ငန်းမှ နှစ်စဉ်ရရှိလာမည့် အမြတ်ငွေ၏ (၁%) ကို လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင် အသုံးပြုသွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

(ဆ) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်လေထုနှင့် ရေထုညစ်ညမ်းမှုမရှိစေရန်နှင့် သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနမှထုတ်ပြန်ထားသော ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ အမိန့်နှင့်ညွှန်ကြားချက်များကိုလိုက်နာဆောင်ရွက်သွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ ရင်းနှီးမြှုပ်နှံရန် အဆိုပြုလာသော လုပ်ငန်းဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုများ ဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည် -

(က) CJ Feed Myanmar Company Limited မှ ကြက်သားဖောက်ခြင်းနှင့်ကြက်သားပေါက်ရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ရာတွင်အသုံးပြုမည့်ထွက်ရှိလာမည့် စွန့်ပစ်ပစ္စည်းများနှင့်အရည်များကြောင့် ပတ်ဝန်းကျင်ရှိ မြေထု၊ ရေထုနှင့်လေထုညစ်ညမ်းစေခြင်း၊

(ခ) ကြက်သားဖောက်ခြင်းနှင့် ကြက်သားပေါက် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် ထွက်ရှိလာမည့်ကြက်ဥအခွံများ၊ ကြက်ဥပုပ်များအား စနစ်တကျမစွန့်ပစ်ပါက ပတ်ဝန်းကျင်ရှိ မြေထုနှင့်လေထုညစ်ညမ်းစေနိုင်ခြင်း၊

(ဂ) အဆိုပြုလုပ်ငန်းမှထွက်ရှိလာမည့်စွန့်ပစ်ရေဆိုးများနှင့် Toxic compound များကြောင့် လုပ်သားများ၏ကျန်းမာရေးကိုထိခိုက်စေနိုင်ခြင်း၊

(ဃ) ကြက်သားပေါက်များခေတ္တထားရှိမွေးမြူရာမှ ထွက်ရှိလာမည့် ကြက်ချေးများ၊ အစာကြွင်းအစာကျန်ဆေးကြောသည့်နေရာများမှ ထွက်ရှိလာမည့် စွန့်ပစ်အရည်/ပစ္စည်းများနှင့် အစာသိုလှောင်သည့်နေရာနှင့် ကြက်မွေးမြူထားသည့် ပတ်ဝန်းကျင်နေရာများမှ ဆက်စပ်အနံ့ဆိုးများ ပျံ့နှံ့ရောက်ရှိခြင်းတို့ကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းခြင်းနှင့်ပတ်ဝန်းကျင်ရှိ ပြည်သူလူထုကို ကျန်းမာရေးထိခိုက်စေခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုပြဿနာများ ဖြစ်ပေါ်လာစေနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ CJ Feed (MyanmaLimited မှ မျိုးကြက်မွေးမြူခြင်းနှင့် မျိုးကြက်ဥရောင်းချခြင်းလုပ်ငန်း လုပ်ကိုင်ဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဆောင်ရွက်ရမည့် လုပ်ငန်းများကို အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည် -

(က) အဆိုပြုလုပ်ငန်းများကြောင့်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျှော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာအချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအားအသုံးပြုရန်နှင့် အဆိုပြုလွှာတွင်ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) အတွက်အသားတင်

အမြတ်ငွေ၏ ၁% ကိုအသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကိုတိတိကျကျ လိုက်နာအကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် (၄၉)၊ (၆၃) နှင့်အညီဆောင်ရွက်ရန်၊

(ဂ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် ၄၅၊ ၄၆ တို့အရစီမံကိန်းအဆိုပြုသူသည် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းလုပ်ငန်း **(Environmental Impact Assessment-EIA)** မစတင်မီအဆိုပါလုပ်ငန်းကို ဆောင်ရွက်မည့်တတိယပုဂ္ဂိုလ် (သို့မဟုတ်) အဖွဲ့အစည်းနှင့်စပ်လျဉ်း၍ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ ဆုံးဖြတ်ချက်ရယူရန်၊

(ဃ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် ၄၇ မှ အပိုဒ် ၅၄ထိ ဖော်ပြချက်အရ စီမံကိန်းအဆိုပြုသူသည် နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်းအစီရင်ခံစာနှင့်ဆောင်ရွက်မည့်လုပ်ငန်းတာဝန်များကို လမ်းညွှန်ချက်များနှင့်အညီ လေ့လာဆန်းစစ်ပြုစု၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ တင်ပြအတည်ပြုချက်ရယူရန်၊

(င) အတည်ပြုပြီးသော နယ်ပယ်အတိုင်းအတာသတ်မှတ်ခြင်း အစီရင်ခံစာပါအချက်များအပေါ်အခြေခံ၍ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ် (၆၃) ပါအချက်များနှင့်အညီ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းအစီရင်ခံစာ (EIA)** ကိုဆောင်ရွက်ပြီးသယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ ရေးဆွဲတင်ပြရန်၊

(စ) အထက်ပါလေ့လာဆန်းစစ်မှု ရလဒ်များကိုအခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ် စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်းအကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ဆ) ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သောပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာအရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင်ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်

ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်နှင့် တင်ပြရမည့်အစီအစဉ်အလိုက် လိုအပ်သည့်ပုံစံများဖြည့်စွက်၍တစ်ပါတည်း တင်ပြရန်၊

(ဈ) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့် နေရာဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ဆန္ဒနှင့် သဘောထားများကိုလည်း ရယူ ဆောင်ရွက်ရန်၊

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်(ပတ်ဝန်းကျင်)
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

**မိတ္တူကို**

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ